အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Shuang Feng Sakuraba Company Limited မှ ရာသီသီးနှံများစိုက်ပျိုးပြီး စားသောက်ကုန်ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြ လာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar Shuang Feng Sakuraba Company Limited |
| | ကမကထပြုသူ | - Ms. HengHeng Xu |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Ms. HengHeng Xu (China) ၄၀%<br>Mr. Xu, Qian (China) ၄၀%<br>ဒေါ်မာကော့ (မြန်မာ) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - ရာသီသီးနှံများစိုက်ပျိုးပြီး စားသောက်ကုန်ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် (၉၅၊၁၀၀/ ၁၊ ၉၂/ ၁၊ ၉၆/၁-က၊ ၁၀၀/၂၊)၊ မြေကွက်အမှတ်(၁၂၄၊ ၁၂၅၊ ၁၂၆၊ ၁၂၂၊ ၃၄၂/ ၃၆၉၊ ၁၂၇/၃၆၀၊၁၂၁၊ ကွင်းအမှတ်(၁၄၆) ၊ဦးပိုင်အမှတ် (၄၅/ ၁၊ ၄၆၊ ၄၇၊၄၈၊၅၇/၂၊ ၆၁၊ ၆၂) မြေကွက်အမှတ် (၁၆၆/၃၂၃၊၁၆၅/၃၂၂၊၁၆၅/ ၃၂၃၊ ၁၆၅၊ ၁၉၄/ ၃၅၄၊ ၁၇၀၊ ၁၇၁/၃၂၃၊)ကွင်းအမှတ်(၁၄၇)၊ ကုန်းလျှင်ရွာ ဆောင်ပိုင်း၊ သာမိုင်းခမ်း ကျေးရွာအုပ်စု၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း) |
| ၃။ | မြေပိုင်ရှင် | - ဒေါ်ခင်ဆွေဝင်း၊ ဒေါ်ခင်ပြုံးဝေ၊ ဦးထွန်းထွန်းလင်း |
| | မြေအကျယ်အဝန်း | - ဒေါ်ခင်ပြုံးဝေ(၆.၉၉၀)ဧက၊ဦးထွန်းထွန်းလင်း(၅.၄၀၀)ဧက နှင့် ဒေါ်ခင်ဆွေဝင်း(၁၂.၃၅၀)ဧက၊<br>- စုစုပေါင်း မြေဧရိယာ ၂၄.၇၄၀ ဧက<br>- စိုက်ပျိုးမြေ ၂၃.၇၀၀ ဧက<br>- စက်ရုံနှင့် အဆောက်အဦးမြေ ၁.၀၄၀ ဧက |
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - စုစုပေါင်းမြေငှားရမ်းခကျပ် ၂,၉၆၈,၈၀၀<br>(က)တစ်နှစ်ငှားရမ်းခ ကျပ် ၈၃၈,၈၀၀(မြေ၆.၉၉၀ဧက)<br>(ခ) တစ်နှစ်ငှားရမ်းခ ကျပ် ၆၄၈,၀၀၀ (မြေ ၅.၄၀၀ဧက)<br>(ဂ) တစ်နှစ်ငှားရမ်းခ ကျပ် ၁,၄၈၂,၀၀၀(မြေ၁၂.၃၅၀ဧက)<br>- (တစ်နှစ်တစ်ဧကလျှင် ၁၂၀,၀၀၀ ကျပ်နှုန်း) |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ ကြိမ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |

<table>
<tr><td>၆။</td><td>စုစုပေါင်းမတည်ငွေရင်း ပမာဏ<br><br>ငွေသား<br>စက်ပစ္စည်း<br>လျှပ်စစ်ပစ္စည်း<br>ကနဦးကုန်ကြမ်းပစ္စည်း<br>စုစုပေါင်း</td><td>- အမေရိကန်ဒေါ်လာ ၀.၆၆၁ သန်း<br><br>

| ပြည်တွင်း | | ပြည်ပ US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| (US$) သန်း | (ညီမျှသောကျပ်သန်း) | | |
| ၀.၁၃၂ | ၁၈၅.၁၈၅ | ၀.၁၅၀ | ၀.၂၈၂ |
| | | ၀.၀၄၇ | ၀.၀၄၇ |
| | | ၀.၀၁၇ | ၀.၀၁၇ |
| | | ၀.၃၁၅ | ၀.၃၁၅ |
| **၀.၁၃၂** | **၁၈၅.၁၈၅** | **၀.၅၂၉** | **၀.၆၆၁** |

</td></tr>
<tr><td>၇။</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br>ပြည်ပ</td><td>- ၂၅၂ ဦး<br>- ၂၅၀ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ၂ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၂,၈၀၀ ဖြစ် ပါသည်။)</td></tr>
<tr><td>၈။</td><td>ရောင်းချမည့်စနစ် နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်</td><td>-ပြည်ပ ၁၀၀ %<br><br>

| စဉ် | ပစ္စည်း အမျိုးအစား | အရေ အတွက် (kg) | ရောင်းချမည့် ဈေးနှုန်း (US$/ kg) |
|---|---|---|---|
| (က) | Sakuraba | ၆၀၀,၀၀၀ | ၀.၅၇ |
| (ခ) | Bamboo Leaves | ၂၀၀,၀၀၀ | ၁.၂၀ |
| (ဂ) | Salted Cucumber | ၁၀,၀၀၀ | ၂.၇၀ |
| (ဃ) | Sakura | ၁,၀၀၀ | ၅.၅၀ |
| (င) | Frozen Yomogi | ၃၀,၀၀၀ | ၂.၂၀ |
| (စ) | Dehydrated Yomogi | ၃,၀၀၀ | ၁၁.၀၀ |

</td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>-Myanmar Shuang Feng Sakuraba Company Limited နှင့် ဦးထွန်းထွန်းလင်း၊ ဒေါ်ခင်ဆွေဝင်း နှင့် ဒေါ်ခင်ပြုံးဝေ တို့ကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) ၃စောင်၊မြေစာ ရင်းပုံစံ-၁၀၅ နှင့် လယ်ယာ မြေပုံစံ-၇ တို့အား တင်ပြ ထားပါ သည်။ Ms. Heng Heng Xu , Mr. Xu Qian နှင့် ဒေါ်မာကော့တို့ အကြား ချုပ်ဆိုမည့်ဖက်စပ် စာချုပ် (မူကြမ်း)တို့အား တင်ပြ ထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| | | -စက်ပစ္စည်းUS$(၁.၀၆၄)သန်းနှင့်အပင်မျိုးများUS$(၀.၃၁၅) သန်းတန်ဖိုးတို့ကို ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။<br>-ငွေရေးကြေးရေး အထောက်အထားအဖြစ် ဇဒါမာကော့ အမည်ဖြင့် ၁၁-၇-၂၀၁၈ ရက်နေ့၌ မြန်မာနိုင်ငံ ကမ္ဘောဇ ဘဏ်တွင် ကျပ် ၈,၁၆၅,၀၀၀ ရှိကြောင်းနှင့် Zhe Jiang Province Separate Account of Rural Cooperative Financial Institution တွင် ၂-၈-၂၀၁၈ ရက်နေ့၌ Ms.Xu Heng Heng အမည်ဖြင့် ယွမ် ၅၄၄,၉၃၈.၁၀ နှင့် Mr. Xu Qian အမည်ဖြင့် ယွမ် ၇၁၅၃၄၀.၄၁ ရှိကြောင်း ငွေကြေး အထောက် အထား တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူး လက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- Myanmar Shuang Feng Sakuraba Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ၊ MOA, AOA အား တင်ပြ ထားပါသည်။<br>- Myanmar Shuang Feng Sakuraba Company Limited မှ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ ဝန်ထမ်း သက်သာ ချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ် တို့အား တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် အမိန့်ကြော်ငြာစာအမှတ် (၁၃/၂၀၁၇)အရ ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC-011တွင် အကျုံးဝင်ပါသည်။<br>-မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁၅/၂၀၁၇) အပိုဒ်(ဃ)၊ အပိုဒ်ခွဲ(၃)အရ စိုက်ပျိုးမွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ အတည်ပြုချက် ရယူရခြင်း ဖြစ်ပါသည်။<br>- စက်ရုံနှင့် အဆောက်အဦး ဆောက်လုပ်ရန်မြေ (၁.၀၄) ဧက အား လယ်ယာမြေ ကိုအခြားနည်း အသုံးပြုခွင့် လျှောက်ထား ဆောင်ရွက်ဆဲဖြစ်ကြောင်းတင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ အ-၀၃၆ /၂၀၁၈( ၅၁၅ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၈ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Shuang Feng Sakuraba Company Limited မှ ရာသီသီးနှံများ စိုက်ပျိုးပြီး စားသောက်ကုန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ Myanmar Shuang Feng Sakuraba Company Limitedမှ ဦးပိုင်အမှတ် (၉၅၊၁၀၀/ ၁၊ ၉၂/ ၁၊ ၉၆/၁-က၊ ၁၀၀/၂၁)၊ မြေကွက်အမှတ်(၁၂၄၊ ၁၂၅၊ ၁၂၆၊ ၁၂၂၊ ၃၄၂/ ၃၆၉၊ ၁၂၇/၃၆၀၊၁၂၁၊ ကွင်းအမှတ်(၁၄၆)၊ ဦးပိုင်အမှတ် (၄၅/ ၁၊ ၄၆၊ ၄၇၊၄၈၊၅၇/၂၊ ၆၁၊ ၆၂) မြေကွက်အမှတ် (၁၆၆/၃၂၃၊ ၁၆၅/ ၃၂၂၊ ၁၆၅/ ၃၂၃၊ ၁၆၅၊ ၁၉၄/ ၃၅၄၊ ၁၇၀၊ ၁၇၁/၃၂၃)၊ ကွင်းအမှတ်(၁၄၇)၊ ကုန်းလျှင်ရွာတောင်ပိုင်း၊ သာမိုင်းခမ်းကျေးရွာအုပ်စု၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)ရှိ မြေ၂၄.၇၄ဧက တွင် ရာသီသီးနှံများ စိုက်ပျိုးပြီး စားသောက်ကုန်ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Myanmar Shuang Feng Sakuraba Company Limited နှင့် ဦးထွန်းထွန်းလင်း၊ ဒေါ်ခင်ဆွေဝင်း နှင့် ဒေါ်ခင်ပြုံးဝေ တို့ကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) ၃စောင်၊မြေစာ ရင်းပုံစံ-၁၀၅ နှင့် လယ်ယာ မြေပုံစံ-၇ တို့အား တင်ပြ ထားပါသည်။ Ms. Heng Heng Xu, Mr. Xu Qian နှင့် ဒေါ်မာကော့တို့ အကြား ချုပ်ဆိုမည့်ဖက်စပ် စာချုပ် (မူကြမ်း)တို့အား တင်ပြ ထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၂၄.၇၄၀ ဧကအား ငှားရမ်းမည်ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ တစ်နှစ်တစ်ဧကလျှင် ၁၂၀,၀၀၀ ကျပ် နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၆၆၁ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| အကြောင်းအရာ | ပြည်တွင်း | | ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| | US$သန်း | (ညီမျှသောကျပ်သန်း) | US$/ သန်း | US$/ သန်း |
| ငွေသား | ၀.၁၃၂ | ၁၈၅.၁၈၅ | ၀.၁၅၀ | ၀.၂၈၂ |
| စက်ပစ္စည်း | | | ၀.၀၄၇ | ၀.၀၄၇ |
| လျှပ်စစ်ပစ္စည်း | | | ၀.၀၁၇ | ၀.၀၁၇ |
| ကုန်ကြမ်းပစ္စည်း | | | ၀.၃၁၅ | ၀.၃၁၅ |
| **စုစုပေါင်း** | **၀.၁၃၂** | **၁၈၅.၁၈၅** | **၀.၅၂၉** | **၀.၆၆၁** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၂၅၀ ဦးနှင့် ပြည်ပဝန်ထမ်း ၂ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၂၅၂ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါ သည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၂,၈၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်ပသို့ ၁၀၀% ရောင်းချမည် ဖြစ်ပါ သည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ထုတ်လုပ်မည့် ပစ္စည်းအမျိုးအမည် | ရောင်းချမှု အရေအတွက် (Kg) | ရောင်းဈေးနှုန်း (US$/Kg) |
|---|---|---|---|
| (က) | Sakuraba | ၆၀၀,၀၀၀ | ၀.၅၇ |
| (ခ) | Bamboo Leaves | ၂၀၀,၀၀၀ | ၁.၂၀ |
| (ဂ) | Salted Cucumber | ၁၀,၀၀၀ | ၂.၇၀ |
| (ဃ) | Sakura | ၁,၀၀၀ | ၅.၅၀ |
| (င) | Frozen Yomogi | ၃၀,၀၀၀ | ၂.၂၀ |
| (စ) | Dehydrated Yomogi | ၃,၀၀၀ | ၁၁.၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး**မှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ လယ်ယာမြေ အခြား နည်းအသုံးပြုခြင်း လုပ်ငန်းဆောင်ရွက်မည်ဆိုပါက တည်ဆဲ ၂၀၁၂ ခုနှစ်၊ လယ်ယာ မြေဥပဒေပုဒ်မ (၃၀)နှင့်အညီ လျှောက်ထား ဆောင်ရွက်ရမည် ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ (စက်ရုံနှင့် အဆောက်အဦး

ဆောက်လုပ်ရန်မြေ (၁.၀၄) ဧကအား လယ်ယာမြေ ကိုအခြားနည်း အသုံးပြုခွင့် လျှောက်ထား ဆောင်ရွက်ဆဲဖြစ်ကြောင်းတင်ပြထားပါသည်။) **နောက်ဆက်တွဲ-ခ**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန** မှ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဒေါ်မာကော့ အမည်ဖြင့် ၁၁-၇-၂၀၁၈ ရက်နေ့၌ မြန်မာနိုင်ငံ ကမ္ဘောဇ ဘဏ်တွင် ကျပ် ၈,၁၆၅,၀၀၀ ရှိကြောင်းနှင့် Zhe Jiang Province Separate Account of Rural Cooperative Financial Institution တွင် ၂-၈-၂၀၁၈ ရက်နေ့၌ Ms.Xu Heng Heng အမည်ဖြင့် ယွမ် ၅၄၄,၉၃၈.၁၀ နှင့် Mr. Xu Qian အမည်ဖြင့် ယွမ် ၇၁၅၁၄၀.၄၁ ရှိကြောင်း ငွေကြေး အထောက် အထား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲ မှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအစဉ်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်း သာယာ ရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Shuang Feng Sakuraba Company Limited မှ ရာသီသီးနှံများ စိုက်ပျိုးပြီး စားသောက်ကုန်ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုတင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ ၁၃၉၁၉ / ၇ - ၂၁၆ / အစရ ( ရှမ်း)
ရက် စွဲ ၊ ၂၀၁၈ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တင်ပြခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၉-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၂/ အ-၀၃၆/၂၀၁၈(၄၅၉)

၁။ Myanmar Shuang Feng Sakuraba Company Limited မှ ဦးပိုင်အမှတ်၊(၉၅၊ ၁၀၀/၁၊ ၉၂/၁၊ ၉၆/၁-က၊ ၁၀၀/၂၊ ၄၅/၁၊ ၄၆၊ ၄၇၊ ၅၇/၂၊ ၆၁၊ ၆၂)၊ မြေကွက်အမှတ်(၁၂၄၊ ၁၂၅၊ ၁၂၆၊ ၁၂၂၊ ၃၄၂/၃၆၉၊ ၁၂၇/၃၆၀၊ ၁၂၁၊ ၁၆၆/၃၂၃၊ ၁၆၅/၃၂၂၊ ၁၆၅/၃၂၃၊ ၁၆၅၊ ၁၉၄/၃၅၄၊ ၁၇၀၊ ၁၇၁/၃၂၃၊ ကွင်းအမှတ်(၁၄၆၊ ၁၄၇)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ သာမိုင်းခမ်းကျေးရွာအုပ်စု၊ ကုန်းလျင်ရွာတွင် ရာသီသီးနှံများ စိုက်ပျိုးပြီး စားသောက်ကုန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ Myanmar Shuang Feng Sakuraba Company Limited မှ အဆိုပြုတင်ပြလာခြင်းအပေါ် အောက်ပါအချက်များနှင့်ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် ရာသီသီးနှံများစိုက်ပျိုးပြီး စားသောက်ကုန် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်နိုင်မှု ရှိ/မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါမြေနေရာ၌ အဆိုပြုလုပ်ငန်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ။

(ဃ) အဆိုပြုလုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာ ဟုတ်/ မဟုတ်။

(င) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ်အကြံပြုချက်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တောင်ကြီးခရိုင်စီမံခန့်ခွဲမှုကော်မတီမှ အောက်ပါအတိုင်း စိစစ်တင်ပြလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် ရာသီသီးနှံများ စိုက်ပျိုးပြီး စားသောက်ကုန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နိုင်သည့် နေရာများဖြစ်ပါကြောင်း၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း၊

(ဂ) ဖော်ပြပါမြေနေရာသည် အဆိုပြုလုပ်ငန်း လုပ်ကိုင်ခြင်းအပေါ် ဒေသခံများအနေဖြင့် လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ သဘောတူလက်ခံနိုင်ကြောင်း၊

(ဃ) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် အဆိုပြုလုပ်ငန်းများ ဆောင်ရွက်နိုင်သော အခြေအနေဖြစ်ပါကြောင်း၊

(င) အဆိုပါ မြေနေရာသည် ဦးထွန်းထွန်းလင်းမှ (၅.၄၀)ဧက၊ ဒေါ်ခင်ပြုံးဝေမှ (၆.၉၉) ဧကနှင့် ဒေါ်ခင်ဆွေဝင်းမှ(၁၂.၃၅)ဧကတို့(၃)ဦးပိုင်ဆိုင်သော စုစုပေါင်း(၂၄.၇၄)ဧက ခန့်ရှိ လယ်ယာမြေလုပ်ပိုင်ခွင့်ပြုလက်မှတ်(ပုံစံ-၇)ရရှိထားပြီးဖြစ်သည့် မြေနေရာဖြစ်ပြီး လက်ရှိမြေပြင်တွင် စပျစ်၊ မက်မွန်နှင့် စတော်ဘယ်ရီစသည့်သီးနှံများ စိုက်ပျိုးထားရှိသဖြင့်အဆိုပြုလုပ်ငန်းများ ဆောင်ရွက်မည်ဆိုပါက မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားဖွံ့ဖြိုးတိုးတက်မှုအတွက် ဦးစားပေးအလေးထား၍ သက်ဆိုင်ရာမြေပိုင်ရှင်များနှင့် ညှိနှိုင်းဆောင်ရွက်သင့်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ သာမိုင်းခမ်းကျေးရွာအုပ်စု၊ ကုန်းလျှင်ရွာတွင် ရာသီသီးနှံများ စိုက်ပျိုးပြီး စားသောက်ကုန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Myanmar Shuang Feng Sakuraba Company Limited မှ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ၁၂-၁၀-၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပုံမှန်အစည်းအဝေးအမှတ်စဉ်(၂-၁၀/၂၀၁၈) ဆုံးဖြတ်ချက် အပိုဒ် ၅(၁-ဃ) အရ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်( ကာခ )
( စိုးညွန့်လွင်၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီး)

မိတ္တူကို

Myanmar Shuang Feng Sakuraba Company Limited
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

MPT-4015
18.10.18

စာအမှတ်၊ စမက(၃) ၇၈၀၀၁ (၁၃၇၇/၂၀၁၈)
ရက်စွဲ၊၂၀၁၈ခုနှစ်၊ အောက်တိုဘာလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၈.၉.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၂/အ-၀၃၆/၂၀၁၈(၄၆၀)

၁။ Myanmar Shuang Feng Sakuraba Company Limited မှ ကုန်းလျင်ရွာ အနောက်တောင်၊ သာမိုင်းခမ်းကျေးရွာအုပ်စု၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)ရှိ မြေ ဧရိယာ (၂၄.၇၄) ဧကတွင် ရာသီ သီးနှံများ စိုက်ပျိုးပြီး စားသောက်ကုန် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာပါသဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကိစ္စနှင့်ပတ်သက်၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် အောက်ပါအတိုင်း သဘောထားပြန်ကြားအပ်ပါသည် -

(က) Myanmar Shuang Feng Sakuraba Co., Ltd. မှ တင်ပြလာသည့် မြေများသည် တင်ပြလာသည့်စာရွက်စာတမ်းများအရ ဒေါ်ခင်ပြုံးဝေ၊ ဦးထွန်းထွန်းလင်းတို့ အမည်ဖြင့် လယ်ယာမြေ လုပ်ပိုင်ခွင့်ပြုလက်မှတ် ပုံစံ(၇) ထုတ်ပေးထားသော ယာမြေများဖြစ်ပြီး ကုမ္ပဏီမှ မည်ကဲ့သို့ လွှဲပြောင်းရယူထားသည်ကို ဖော်ပြထားခြင်း မရှိပါ။

(ခ) တည်ဆဲ ၂၀၁၂ ခုနှစ်၊ လယ်ယာမြေဥပဒေအား ပြင်ဆင်ပြဋ္ဌာန်းနိုင်ရေးအတွက် လွှတ်တော်အဆင့်ဆင့်တွင် ဆွေးနွေးဆောင်ရွက်လျက်ရှိပါသဖြင့် လယ်ယာမြေ ဥပဒေပုဒ်မ ၁၂(ဂ)ပါ "လယ်ယာမြေ လုပ်ပိုင်ခွင့်ကို ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ ငှားရမ်းခြင်း၊ လဲလှယ်ခြင်းနှင့် ပေးကမ်းခြင်း လုပ်ငန်းများ" ကို ဆောင်ရွက်ပေးနိုင်ခြင်း မရှိပါ။

(ဂ) လယ်ယာမြေအခြားနည်း အသုံးပြုခြင်းလုပ်ငန်း ဆောင်ရွက်မည်ဆိုပါက တည်ဆဲ ၂၀၁၂ ခုနှစ်၊ လယ်ယာမြေဥပဒေပုဒ်မ (၃၀) နှင့်အညီ လျှောက်ထား ဆောင်ရွက်ရမည် ဖြစ်ပါသည်။

15.10.18

ဒုတိယဝန်ကြီး(ကိုယ်စား)
(မျိုးတင့်ထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

**မိတ္တူကို**

ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန
ရုံးလက်ခံ/ မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ဝဝ၁/ MIC (OSS)/ ဝ၁(၆၂/၁၅)
ရက်စွဲ၊ ၂ဝ၁၈ ခုနှစ်၊ အောက်တိုဘာလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Shuang Feng Sakuraba Company Limited မှ ရာသီ သီးနှံများ စိုက်ပျိုးပြီးစားသောက်ကုန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၉-၂ဝ၁၈ ရက်စွဲပါစာအမှတ်၊ မရက- ၂/ အ-ဝ၃၆/ ၂ဝ၁၈(၄၅၆-က)

၁။ Myanmar Shuang Feng Sakuraba Company Limited မှဦးပိုင်အမှတ်- ၉၅၊ ၁ဝဝ/၁၊ ၉၂/၁၊ ၉၆/၁-က၊ ၁ဝဝ/၂၊ ၄၅/၁၊ ၄၆၊ ၄၇၊ ၄၈၊ ၅၇/၂၊ ၆၁၊ ၆၂၊ မြေကွက်အမှတ်- ၁၂၄၊ ၁၂၅၊ ၁၂၆၊ ၁၂၂၊ ၃၄၂/၃၆၉၊ ၁၂၇/၃၆ဝ၊ ၁၂၁၊ ၁၆၆/၃၃၃၊ ၁၆၅/၃၃၂၊ ၁၆၅/၃၃၃၊ ၁၆၅၊ ၁၉၄/၃၅၄၊ ၁၇ဝ၊ ၁၇၁/၃၃၃၊ ကွင်းအမှတ်- ၁၄၆၊ ၁၄၇၊ ကုန်းလျှင်ရွာအနောက်တောင်၊ သာမိုင်းခမ်းကျေးရွာအုပ်စု၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ် (တောင်ပိုင်း) ရှိမြေ ၂၄.၇၄ ဧက (၁,ဝဝ,၁ဝ၉.၂၂ စတုရန်းမီတာ) တွင် ရာသီ သီးနှံများစိုက်ပျိုးပြီး စားသောက်ကုန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာ ပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅ဝ)နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁ဝ) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၁,ဝဝ,၁ဝ၉.၂၂ စတုရန်းမီတာ) ပေါ်တွင် ရာသီသီးနှံများစိုက်ပျိုးပြီးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေပြန်လည်သန့်စင်သည့်စနစ်ကိုလည်း တည်ဆောက် တပ်ဆင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar Shuang Feng Sakuraba Company Limited မှ ရာသီ သီးနှံများ စိုက်ပျိုးပြီးစားသောက်ကုန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေပြုပြင်ခြင်း ဆောင်ရွက်ရာ၌ ချုံများကိုခုတ်ထွင်၍ မီးရှို့ရှင်းလင်းရာတွင် စနစ်တကျဆောင်ရွက်ခြင်း မရှိပါက မြေဆီလွှာအရည်အသွေး ကျဆင်းပြီး မီးခိုးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊

(ခ) အဆိုပြု စိုက်ခင်းလုပ်ငန်းကို စနစ်တကျအောင်မြင်အောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက သစ်ပင် သစ်တောများ ပြုန်းတီးခြင်း၊ တောရိုင်းတိရိစ္ဆာန်တို့၏ နေထိုင်ကျက်စားရာနေရာများ ပျက်ဆီးဆုံးရှုံးခြင်းတို့ကြောင့် အပင်/သတ္တဝါတို့၏ ဂေဟဗေဒစနစ် ထိခိုက်ပျက်စီးပြီး ဇီဝမျိုးစုံ/မျိုးကွဲများ လျော့နည်းပျောက်ကွယ်နိုင်ခြင်း၊

(ဂ) စိုက်ခင်းအတွက် ဓာတုဓာတ်မြေဩဇာနှင့် ပိုးသတ်ဆေးများကို အလွန်အကျွံသုံးစွဲပါက မြေဆီလွှာ အရည်အသွေးကို ယိုယွင်းပျက်စီးစေနိုင်ခြင်း၊ အလုပ်သမားများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊ မြေအောက်ရေများ ထုတ်ယူသုံးစွဲမှုကြောင့် မြေမျက်နှာပြင် ပြောင်းလဲမှု ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Shuang Feng Sakuraba Company Limited မှ ရာသီ သီးနှံများ စိုက်ပျိုး ပြီးစားသောက်ကုန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ နှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်း သိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ် ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental**

**Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံ ရေးသားတင်ပြရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

(ဃ) သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရှမ်းပြည်နယ်
ရုံးလက်ခံ